

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပုံစံ (၂)
စာအမှတ် ၂၁၂၂
နေ့စွဲ ၃၄-၅-၉၉

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၂၄၉/၉၉ ၁၉၉၉ ခုနှစ်၊ မေ လ ၇၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဒေါ်စန်းစန်းငို

(ခ) အဘအမည် ဦးကြည်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် အင(န်)ဘီအင(န်) ၀၀၃၂၀၂

(ဃ) နေရပ်လိပ်စာ အမှတ်(ဂ၆)၊ ၁၂၃လမ်း၊ မင်္ဂလာ တောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စူပါအေ့(စ်)အင်တာနေရှင်နယ် ကုမ္ပဏီလီမိတက် (Super Ace International Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား မုန့်မျိုးစုံထုတ်လုပ်ခြင်း။

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မြေကွက်အမှတ်(၂၁၅)၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၆၁.၀၀ သန်း (ကျပ်ခြောက်ဆယ့်တစ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့် ကြော်ငြာစာအမှတ်၊ ၃၉/၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၁၅ ရက်။
(၁၉၉၉ ခုနှစ်၊ မေလ ၁၄ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) မှ ကုမ္ပဏီ အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ် (၂၁၅)ရှိမြေ (၁.၀၂၄)ဧက (၄၁၄၄ စတုရန်းမီတာ)ပေါ်တွင် စက်ရုံတည်ဆောက်ကာ Super One အမှတ်တံဆိပ်ဖြင့် မုန့်မျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၃-၄-၉၉)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၆-၅-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၆/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.)အား မုန့်မျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၄၉/၉၉ ကို ထုတ်ပေး လိုက်သည်။

၂။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် လုပ်ငန်းအကောင်အထည် ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ)အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ)အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ)အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) ပြည်ပမှတင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည်ပေးဆပ်သည့် အခါ အဆိုပြု လုပ်ငန်းမှရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ နှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက်ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ချေးငွေပေးသူနှင့် ယူသူတို့၏ တာဝန်သာ ဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာစာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၈။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) မှ ထုတ်လုပ်သည့် မုန့်မျိုးစုံများကို ဖြန့်ဖြူး ရောင်းချခြင်းမပြုမီ၊ ကျန်းမာရေး ဝန်ကြီးဌာန၊ မြန်မာနိုင်ငံ အစားအသောက် နှင့် ဆေးဝါးအာဏာပိုင်အဖွဲ့၏ စစ်ဆေးမှုကိုခံယူရမည်။

၉။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၁၀။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ဌားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၂။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၃။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ တင်ပြရမည်။

၁၄။ စူပါ အေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ အဆိုပြု လုပ်ငန်းစတင်ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၃၂/၉၉ (၂၁၂၂)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ မေလ ၁၄ ရက်။

ဖြန့်ဝေခြင်း–
၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၃၂၃/၉၉ (၃၀၀၅)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်။

အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။

၁။ စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) မှ မုန့်မျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို (၂၃-၄-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေးမှ လုပ်ငန်းအတွက် လုပ်ငန်းသုံး မော်တော်ယာဉ်များ တင်သွင်းမှုနှင့် ပတ်သက်၍ တည်ဆောက်ရေး ကာလအတွင်း Saloon 1(one) No., Truck 1(one) No. and Pick-up 1(one) No. တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Wagon 1(one) No., Truck 1(one) No. and Pick-up 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကို လိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့် လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

အုပ်ချုပ်မှု ဒါရိုက်တာ
စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်။

မိတ္တူကို -
(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

# SUPER ACE
## INTERNATIONAL COMPANY LIMITED

1 KANTHARYAR STREET, WARD NO.3, MAYANGONE TOWNSHIP, YANGON, 11061 TEL: 92251, TLX: 21207 ANSCOM BM FAX. 095 - 1 - 90597

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ။ ။၃၀.၇.၉၉

အကြောင်းအရာ။ ။ **ကိုယ်စားလှယ်လွှဲအပ်ခြင်း**။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄.၅.၉၉ ) ရက်စွဲပါ ခွင့်ပြုမိန့် အမှတ် –မနသ ၂၄၉/၉၉

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်မတို့၏ SUPER ONE INT'L CO., ( M ) LTD အနေဖြင့် ပြည်တွင်းတွင် မုန့်မျိုးစုံထုတ်လုပ်သည့် စက်ရုံ တည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ရှိ ခွင့်ပြုမိန့်ကို ရရှိခဲ့ပါသည်။

ယခုအခါ လုပ်ငန်းသုံး မော်တော်ယာဉ်များ တင်သွင်းခွင့် ခွင့်ပြုမိန့် ထုတ်ယူရန်အတွက် ဤကုမ္ပဏီ၏ ဝန်ထမ်းဖြစ်သူ ဦးတင်အောင်လင်း ( အမျိုးသားမှတ်ပုံတင် အမှတ်–အမ်ဝိုင်အေ ၀၁၂၇၃၈ ) အား ကိုယ်စားလှယ် လွှဲအပ်ထားပါသည်။

ကိုယ်စားလှယ်၏ ထိုးမြဲလက်မှတ်–

၁။–––––––––––––––––––––––

၂။–––––––––––––––––––––––

၃။–––––––––––––––––––––––

လေးစားစွာဖြင့်

*Daw San San Yi*
MANAGING DIRECTOR
SUPER ACE INTERNATIONAL CO., LTD

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
၆၅၃/၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၃၂၃/၉၉ (၃၀၀၅)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်။

အကြောင်းအရာ။ **လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။**

၁။ စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) မှ မုန့်မျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို (၂၃-၄-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေးမှ လုပ်ငန်းအတွက် လုပ်ငန်းသုံး မော်တော်ယာဉ်များ တင်သွင်းမှုနှင့် ပတ်သက်၍ တည်ဆောက်ရေး ကာလအတွင်း Saloon 1(one) No., Truck 1(one) No. and Pick-up 1(one) No. တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Wagon 1(one) No., Truck 1(one) No. and Pick-up 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကို လိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့် လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထား ရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

အုပ်ချုပ်မှု ဒါရိုက်တာ
စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်။

မိတ္တူကို -

(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
(၂) ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သက်မှတ်ရေး အဖွဲ့ဝင် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ဖ၅၃/ဖ၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Tel : 272052, 272870, 272912
Fax : 095-01-282101

စာအမှတ်၊ ရက-၁/မ-၃၂၃/၉၉ (၁၀၀၅)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်။

အကြောင်းအရာ။ လုပ်ငန်းသုံးအတွက် မော်တော်ယာဉ်များ တင်သွင်းရန် ကိစ္စ။

၁။ စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) မှ မုန့်မျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ကို (၂၃-၄-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါ အစည်းအဝေးမှ လုပ်ငန်းအတွက် လုပ်ငန်းသုံး မော်တော်ယာဉ်များ တင်သွင်းမှုနှင့် ပတ်သက်၍ တည်ဆောက်ရေး ကာလအတွင်း Saloon 1(one) No., Truck 1(one) No. and Pick-up 1(one) No. တို့ကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် လည်းကောင်း၊ လုပ်ငန်း စတင်ဆောင်ရွက်သည့် အချိန်တွင် Wagon 1(one) No., Truck 1(one) No. and Pick-up 1(one) No. တို့ကို အခွန်အကောက် (၅၀)ရာခိုင်နှုန်း သက်သာခွင့်ဖြင့် လည်းကောင်း တင်သွင်းခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကို လိုအပ်သလို ဆောင်ရွက်နိုင်ရန်နှင့် လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနသို့ လုပ်ထုံးလုပ်နည်းများနှင့်အညီ သွင်းကုန်လိုင်စင် လျှောက်ထားရယူရန် လိုအပ်ကြောင်း အကြောင်းကြားအပ်ပါသည်။

ORIENT PEARL CO., LTD.
No. ..........
Date. ..........

( [illegible] မောင်ရီ)
တွဲဖက်အတွင်းရေးမှူး

(MYINT LWIN)
MANAGING DIRECTOR
ORIENT PEARL CO., LTD.

အုပ်ချုပ်မှု ဒါရိုက်တာ
စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်။

မိတ္တူကို
(၁) စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
(၂) [illegible]
(၃) ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်း တန်ဖိုး သက်မှတ်ရေး အဖွဲ့ငယ် (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန)။
(၄) ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
(၅) ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
(၆) ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

(၁၂-၃-၉၉) နေ့တွင်ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁/၉၉) ကြိမ်မြောက်ညှိနှိုင်းအစည်းအဝေး မှတ်တမ်း ။

၁။ စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် (Super Ace International Co., Ltd. ) မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက အဆိုပြုချက်၏အဓိကအချက်များကို ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့် သဘောတူကြောင်းနှင့် ကော်မရှင်သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ပါသည်။

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် [illegible] |
|---|---|---|
| ၁ | ၂ | ၃ |
| ၁။ | စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် (Super Ace International Co., Ltd. ) မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။<br>ဆုံးဖြတ်ချက်။<br>(၁) အဆိုပြုလုပ်ငန်းအား မူအားဖြင့်သဘောတူသဖြင့် ကော်မရှင်သို့ဆက်လက်တင်ပြရန်။<br>(၂) မော်တော်ယာဉ်လိုင်စင်တွင်းမှုနှင့်ပတ်သက်၍ လုပ်ငန်းတည်ဆောက်မှုကာလအတွင်း Saloon (၁) စီး၊ Pick-up (၁) စီးနှင့် Truck (၁) စီးကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွင်း Wagon (၁) စီး၊ Pick-up (၁) စီးနှင့် Truck (၁) စီးတို့ကိုအခွန်အကောက် ၅၀% သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန်။ | အတွင်းရေးမှူး မြို့ပြနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။ |

2822
12-7-99

# SUPER ACE

## INTERNATIONAL COMPANY LIMITED

1 KANTHARYAR STREET, WARD NO.3, MAYANGONE TOWNSHIP, YANGON, 11061 TEL: 92251, TLX: 21207 ANSCOM BM FAX. 095 - 1 - 90597

သို့

တွဲဖက်အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်။ ။SA/ 017 /99-2000

ရက်စွဲ။ ။12 . 7 . 1999

1356
14/7/99

အကြောင်းအရာ။ ။ မော်တော်ယာဉ်တင်သွင်းခွင့်ပြုမိန့်များလျှောက်ထားခြင်း။

ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၄၊၅၊၉၉) ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် ၊ မနသ - ၂၄၉ / ၉၉
(၂) ဤကုမ္ပဏီ၏ (၁၄၊၆၊၉၉)ရက်စွဲပါစာအမှတ် SA / 004 / 99 - 2000

အထက်အကြောင်းအရာပါ ကိစ္စနှင့် ပတ်သက်၍ မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသော **SUPER ACE INTERNATIONAL CO., LTD** သည်မှန်မျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ရန် ရည်ညွှန်းချက် (၁)ရှိမြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ (၁၄၊၅၊၉၉) ရက်စွဲဖြင့် ခွင့်ပြုမိန့်ကို ရရှိခဲ့ပါသည်။

ယခုအခါ ဤ **Super Ace Int'l Co., Ltd** သည် မှန်မျိုးစုံထုတ်လုပ်သည့် စက်ရုံကို စတင် အကောင်အထည် ဖော်ဆောင်ရွက်လျှက်ရှိရာ ကနဦးလုပ်ငန်းဆောင်ရွက်မှုအခြေအနေ ကို ရည်ညွှန်းချက် (၂) ပါ စာဖြင့် အစီရင်ခံ တင်ပြခဲ့ပါသည်။

ဤကုမ္ပဏီသည် မှန်မျိုးစုံ ထုတ်လုပ်သည့် စက်ရုံအဆောက်အဦးနှင့် **Electric Power - 500 KVA Transformer** ကိုလည်း တပ်ဆင်ပြီးစီးပြီ ဖြစ်၍ ယခုအခါ စက်ရုံတည်ဆောက်မှု၏ ၅၀% ရာခိုင်နှုန်း ဆောင်ရွက် ပြီးစီးပြီ ဖြစ်ကြောင်း ထပ်မံအစီရင်ခံ တင်ပြအပ်ပါသည်။

သို့ဖြစ်ပါ၍ တည်ဆောက်ရေးကာလတွင် အသုံးပြုရန်အတွက် ဤကုမ္ပဏီအား မော်တော်ယာဉ်များ တင်သွင်းခွင့်ပြုမိန့်များ ထုတ်ပေးပါရန် ရိုသေစွာ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

12/7

*Daw San San Yi*
**MANAGING DIRECTOR**
**SUPER ACE INTERNATIONAL CO., LTD.**

## ခွင့်ပြုမိန့်ရရှိပြီးသောလုပ်ငန်းများ၏ လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာ ကနဦးအခြေအနေ

၁။ လုပ်ငန်းအမည် - SUPER ACE INTERNATIONAL CO., LTD.

၂။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်အမှတ်နှင့်နေ့စွဲ - မနသ-၂၄၉/၉၉ (၁၄-၅-၉၉)

၃။ ပဋိညာဉ်စာချုပ်လက်မှတ်ရေးထိုးသည့်နေ့စွဲ -
- ဖက်စပ်လုပ်ငန်းသဘောတူညီချက်
- တည်ဆောက်၊လုပ်ဆောင်၊လွှဲပြောင်း၊သဘောတူညီချက်
- မြေငှားရမ်းခြင်းသဘောတူညီချက်
- ထုတ်လုပ်ခြင်းနှင့်ခွဲဝေခြင်းသဘောတူညီချက်
- အခြား

၄။ ကုမ္ပဏီဖွဲ့စည်းသော နေ့/ ကုမ္ပဏီမှတ်ပုံတင်သောနေ့ - ၈.၉.၉၂

၅။ အခြားအစိုးရအဖွဲ့အစည်းများ၏ ခွင့်ပြုချက်ရရှိသောနေ့စွဲ -

၆။ ပို့ကုန်/ သွင်းကုန် မှတ်ပုံတင်သောနေ့ - ၇.၉.၉၃

၇။ စာချုပ်လက်မှတ်ရေးထိုးခြင်း/ စရံငွေ/ မြေအသုံးချခွင့် - အတွက်ပေးငွေနှင့် ပေးသွင်းသည့်နေ့စွဲ

၈။ ဘဏ်အာမခံကြေးပေးသောနေ့စွဲ

| | | | (ကျပ်ထောင်ပေါင်း) | (US$ .000) |
|---|---|---|---|---|
| တင်သွင်းလာမည့်ရင်းနှီးမြှုပ်နှံမှုပမာဏ၊ (ငွေသား၊စက်ပစ္စည်း၊ကုန်ကြမ်းနှင့်အခြား) | | | | |
| (၁) | ငွေပမာဏ | - | ၃၆၀၀၀ | |
| (၂) | အဆောက်အဦး | - | ၁၅၀၀၀ | |
| (၃) | မြေ | - | ၅၀၀၀ | |
| (၄) | စက်ပစ္စည်းကရိယာ | - | ၆၀၀၀ | ၅၀၀ |
| (၅) | ကုန်ကြမ်းပစ္စည်းများ | - | ၁၂၀၀၀ | ၂၀၀၀ |
| | စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | - | ၇၄၀၀၀ | ၂၅၀၀ |

*Daw San San Yi*
MANAGING DIRECTOR
SUPER ACB INTERNATIONAL CO., LTD.

ထွေထွေအရပ်ရပ်–၁၆
(ရုံးတွင်း စာအကျဉ်း ချုပ်သို့တည်း မဟုတ် စာကြမ်း ရေးရန်အတွက်)

အကြောင်းအရာ။ ။ <u>စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ မုန့်မျိုးစုံထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် **(Super Ace International Co.,Ltd.)** မှ ကုမ္ပဏီအမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၂)၊ မြေကွက်အမှတ်(၂၁၅)၊ ရှိမြေ(၁.၀၂၄) ဧက(၄၁၄၄ စတုရန်းမီတာ) ပေါ်တွင်စက်ရုံတည်ဆောက်ကာ **Super One** အမှတ်တံဆိပ်ဖြင့်မုန့်မျိုးစုံထုတ်လုပ်ခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြ ချက်အား (၂၃–၄–၉၉) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၇/၉၉)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၆–၅–၉၉) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၆/၉၉)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ နှင့်ယင်းဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများ အခန်း (၄)အပိုဒ် ၁၂ တို့နှင့်အညီစူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိ

၆။ ထွေထွေအရပ်ရပ်-၁၆

(ရုံး တွင်း စာအကျဉ်း ချုပ်သို့တည်း မဟုတ်စာကြမ်း ရေး ရန်အတွက်)



တက် (Super Ace International Co., Ltd.) - သို့ထုတ်ပေးမည့် ခွင့်ပြုမိန့် တွင်လက်မှတ်ရေးထိုးနိုင်ပါရန်နှင့်ယင်း ခွင့်ပြုမိန့်ထုတ်ပေးမည့် အမှာစာ(မူကြမ်း)ကိုသဘောတူအတည်ပြုပေးနိုင်ပါရန်ပြုစုတင်ပြအမိန့်နာခံ အပ်ပါသည်။

၁၃-၁-၉၉

၁၃/၁

အတွင်းရေးမှူး (ဝန်ကြီး)

Permit တွင်လက်မှတ်ရေးထိုးနိုင်ပါရန်တင်ပြအပ်ပါသည်

၁၃/၁

ဥက္ကဋ္ဌ (ဒုတိယဝန်ကြီးချုပ်)

၁၄/၁

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ-၉၇၅/ ၉၉ ( ၁၄၁၅ )။
ရက်စွဲ၊ ၁၉၉၉ခုနှစ်၊ ဧပြီလ ၃၀ ရက်။

## ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် မှ မုန့်မျိုးစုံ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် (Super Ace International Co., Ltd.) မှ မုန့်မျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၂၃-၄-၉၉) နေ့တွင် ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၇/၉၉)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် မူအားဖြင့် သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်း ငွေပေးချေခြင်းစနစ် သဘောတူစာချုပ် (မူကြမ်း)ကို နောက်ဆက်တွဲ(၁) အဖြစ်ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၂.၀၀)သန်း အပါအဝင် ကျပ်(၆၁.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသားကျပ်(၂၄.၀၀)သန်း၊ အဆောက်အဦ တန်ဖိုးကျပ် (၁၈.၀၀)သန်း၊ မြေတန်ဖိုးကျပ်(၇.၀၀)သန်း၊ စက်ပစ္စည်းကိရိယာ တန်ဖိုးကျပ် (၆.၀၀)သန်း {အမေရိကန်ဒေါ်လာ (၁.၀၀)သန်း}၊ ကုန်ကြမ်းပစ္စည်း တန်ဖိုးကျပ်(၆.၀၀)သန်း {အမေရိကန်ဒေါ်လာ (၁.၀၀)သန်း} ထည့်ဝင်ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများကို စင်ကာပူနိုင်ငံ Super One International Trading Pte Ltd. မှ ရှေ့ဆိုင်းငွေပေး ချေခြင်းစနစ်အရ တစ်နှစ်လျှင် (၆)ရာခိုင်နှုန်း အတိုးနှုန်းဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် စူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက် အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်၊ မြေကွက်အမှတ် (၂၁၅)၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့ရှိမြေ (၁.၀၂၄)ဧက (၄၁၄၄ စတုရန်းမီတာ)ကို မတည်ငွေရင်းအဖြစ် ထည့်ဝင်၍ စက်ရုံ တည်ဆောက်ပြီးလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်း၏ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ပြည်ပရောင်း | | ပြည်တွင်းရောင်း | | | |
|---|---|---|---|---|---|---|---|
| | | ထုတ်လုပ်မှု ထုတ်(၀၀၀) ၇၀% | ရောင်းဈေးနှုန်း (US$/ထုတ်) | ထုတ်လုပ်မှု ထုတ်(၀၀၀) ၃၀% | ရောင်းဈေးနှုန်း (ကျပ်/ထုတ်) | ထုတ်လုပ်မှု ပေါင်(၀၀၀) ၁၀၀% | ရောင်းဈေးနှုန်း (ကျပ်/ပေါင်) |
| ၁။ | Assorted Biscuit | ၃၅၀၀ | ၁.၈၆ | ၁၅၀၀ | ၁၇၃ | | |
| ၂။ | Filling & Sweet Buns | | | | | ၆၅၀ | ၃၅၀ |
| ၃။ | Cakes of Various Sorts | | | | | ၆၅၀ | ၃၅၀ |
| ၄။ | Loaves | | | | | ၄၅၀ | ၁၉၉ |

၅။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၈၀၄.၅၀ | ၃၉.၁၆ | ၈၄၃.၆၆ |
| (ခ) | အသုံးစရိတ် | ၇၉၈.၄၁ | ၂၆.၃၉ | ၈၂၄.၈၀ |
| (ဂ) | အသားတင်အမြတ် | ၆.၀၉ | ၁၂.၇၇ | ၁၈.၈၆ |

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ဝင်ငွေခွန် — ကျပ် ၂.၆၁ သန်း
အမေရိကန်ဒေါ်လာ ၀.၃၈ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — ကျပ် ၈၀.၄၅ သန်း

၇။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၈၁)ဦးနှင့် ပြည်ပမှ ကျွမ်းကျင်သူ (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ်(၁) စက်မှု ဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို

လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည် ဖြစ်ကြောင်း၊ ပြည်ပမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ငွေချေးသူ၏ တာဝန်သာဖြစ်ကြောင်း၊ ချေးငွေပြန်လည်ပေးဆပ်ရာတွင် လုပ်ငန်းမှ ရရှိသည့်တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးချေမည် ဖြစ်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ပါသည်။

၁၁။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ရူပါအေ့(စ်) အင်တာနေရှင်နယ် ကုမ္ပဏီ လီမိတက်မှ မုန့်မျိုးစုံ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၂။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( မိုလ်မှူးချုပ် မောင်မောင် )
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်။

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။</u>

(၂၃.၄.၉၉) ၇/၉၉ MIC

<u>လျှို့ဝှက်</u>

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက–၆(ခ)/၉၇၅/၉၉(၁၂၁၁)
ရက်စွဲ။ ၁၉၉၉ ခုနှစ်၊ ဧပြီလ ၂၀ ရက်။

<u>အမှာစာ</u>

အကြောင်းအရာ။ ။ <u>စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် ( Super Ace International Co., Ltd. ) မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၁၂-၃-၉၉) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅/၉၉) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်မူအားဖြင့်သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ် (မူကြမ်း)၊ ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများကို <u>နောက်ဆက်တွဲ(၁)</u> တွင်တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ (၂.၀၀)သန်း အပါအဝင်ကျပ် (၆၁.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၂၄.၀၀)သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၁၀.၀၀)သန်း၊ မြေတန်ဖိုး ကျပ် (၇.၀၀)သန်း၊ စက်ပစ္စည်းကရိယာတန်ဖိုး ကျပ် (၆.၀၀)သန်း [အမေရိကန်ဒေါ်လာ (၁.၀၀)သန်း]၊ ကုန်ကြမ်းပစ္စည်းတန်ဖိုး ကျပ် (၆.၀၀)သန်း [အမေရိကန်ဒေါ်လာ (၁.၀၀)သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းများကို စင်ကာပူနိုင်ငံ Super One International Trading Pte Ltd. မှ ရွှေဆိုင်းငွေပေးချေခြင်းစနစ်အရ တစ်နှစ်လျှင် (၆) ရာခိုင်နှုန်းအတိုးနှုန်းဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

<u>လျှို့ဝှက်</u>

၃။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်ရှုပါအေ(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသောမြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေကွက်အမှတ်(၂၁၅)၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့ရှိမြေ(၁.၀၂၄)ဧက(၄၁၄၄စတုရန်းမီတာ)ကိုမတည်ငွေရင်းအဖြစ်ထည့်ဝင်၍စက်ရုံတည်ဆောက်ပြီးလုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ယင်းလုပ်ငန်း၏ပုံမှန်နှစ်တွင်ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်းများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | ပြည်ပရောင်း | | ပြည်တွင်းရောင်း | | | |
|---|---|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (ထုတ်,၀၀၀) ၇၀% | ရောင်းဈေးနှုန်း (US$/ထုတ်) | ထုတ်လုပ်မှု (ထုတ်,၀၀၀) ၃၀% | ရောင်းဈေးနှုန်း (ကျပ်/ထုတ်) | ထုတ်လုပ်မှု (ပေါင်,၀၀၀) | ရောင်းဈေးနှုန်း (ကျပ်/ပေါင်) |
| ၁။ | Assorted Biscuit | ၃၅၀၀ | ၁.၀၆ | ၁၅၀၀ | ၁၇၃ | - | - |
| ၂။ | Filling & Sweet Buns | | - | | - | ၆၅၀ | ၃၅၀ |
| ၃။ | Cakes of Various Sorts | | | | | ၆၅၀ | ၃၅၀ |
| ၄။ | Loaves | | - | | - | ၄၅၀ | ၁၉၉ |

၅။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၀၄.၅၀ | ၃၉.၁၆ | ၁၄၃.၆၆ |
| (ခ) အသုံးစရိတ် | ၇၃၀.၄၁ | ၂၆.၃၉ | ၁၂၄.၀၀ |
| (ဂ) အသားတင်အမြတ် | ၆.၀၉ | ၁၂.၇၇ | ၁၀.၀၆ |

၆။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ပင်ငွေခွန် (ကျပ်) ၂.၆၁ သန်း

(အမေရိကန်ဒေါ်လာ) ၀.၃၈ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်) ၈၀.၄၅ သန်း

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်ပြည်တွင်းမှဝန်ထမ်း (၂၈၁) ဦးနှင့်ပြည်ပမှကျွမ်းကျင်သူ (၅) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ရန်အတွက်အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့သဘောထားမှတ်ချက်တောင်းခံခဲ့ရာကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၉။ ယင်းလုပ်ငန်း၏ငွေရေးကြေးရေးဆိုင်ရာအထောက်အထား အဖြစ်အာရှခနဘဏ်တွင်ထား ရှိသောကမကထပြုသူ ဒေါ်စန်းစန်းရီ၏ဘဏ်လက်ကျန်စာရင်းကိုတင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍တည်ဆောက်ရေးကာလအတွင်း Saloon (၁) စီး၊ Truck (၁) စီး၊ Pick-Up (၁) စီး တို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်ချိန်တွင် Wagon (၁) စီး၊ Truck (၁) စီး၊ Pick-Up (၁) စီး တို့ကိုအခွန်အကောက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ဖြင့်လည်းကောင်း၊ တင်သွင်းခွင့်ပြုရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅/၉၉) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှဆုံးဖြတ်ခဲ့ပါသည်။

၁၁။ ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့်မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်ကြိုတင်ကာကွယ်ထားမည်ဖြစ်ကြောင်း၊ မြေယာနှင့်ပတ်သက်၍နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းများကိုလိုက်နာမည်ဖြစ်ကြောင်း၊ ချေးငွေရယူခြင်း သည်နိုင်ငံတော်နှင့်မသက်ဆိုင်ဘဲငွေချေးသူ၏တာဝန်သာဖြစ်ကြောင်း၊ ချေးငွေ ကိုလုပ်ငန်းမှရရှိမည့်တရားဝင်နိုင်ငံခြားငွေဖြင့်သာပေးဆပ်မည်ဖြစ်ကြောင်း၊

<u>လျှို့ဝှက်</u>



လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ဝန်ခံကတိပြုထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရစီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုတောင်းခံထားရာ ယင်းအပေါ်သုံးသပ်တင်ပြချက်ကို <u>ပူးတွဲ</u> တင်ပြထားပါသည်။

၁၃။ <u>ဆုံးဖြတ်ရန်အချက်</u>။

(က) ဒူပါဒေ့(စ်) အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကို ခွင့်ပြုရန်သဘောတူ - မတူ။

(ခ) သဘောတူပါက အပိုဒ် (၁၂) ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

အတွင်းရေးမှူး (ကိုယ်စား)

[ မောင်မောင်ရီ၊ တွဲဖက်အတွင်းရေးမှူး ]

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။</u>

<u>လျှို့ဝှက်</u>

ဝင်း/ *

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က)အရလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃( ခ )အရလုပ်ငန်းမှပြည်ပသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် (၅၀%) ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏အမှန်တကယ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကိုဖော်ပြလျက် ပထမဝင်ငွေခွန်ကင်းလွတ်ခွင့် ( ၃ ) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃( ဂ )အရကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန် သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃( ဃ )အရသွင်းကုန်အစားထိုးလုပ်ငန်း အဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သော ကာလအထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းတို့အကျုံး ဝင်ခြင်းမရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်း အတိုင်း နှစ်တိုကို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့် နှုန်းအတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့် စက်ပစ္စည်းများ အပေါ် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် တင်သွင်းသည့် လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ပစ္စည်းများ ပြည်ပသို့ တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ကို ခွင့်ပြုသင့်ပါသည်။

လျှို့ဝှက်

## လုပ်ငန်း စီမံကိန်းအဆိုပြုချက်၏အကြောင်းအချက်များ
### (မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ)

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည် | - စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် (Super Ace International Co., Ltd.) (၈-၄-၉၂ နေ့တွင်ကုမ္ပဏီမှတ်ပုံတင်ပြီး) | |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်စန်းစန်းရီ | |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း | |
| ၄ | တည်နေရာ | - မြေကွက်အမှတ်(၂၁၅)၊ စက်မှုဇုန်(၂)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်မြို့။ | |
| | | <u>မူလတင်ပြချက်</u> | <u>ပြင်ဆင်တင်ပြချက်</u> |
| ၅ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ်၇၄.၀၀သန်း (US$ ၂.၅၀ သန်းအပါအဝင်) | ကျပ်၆၁.၀၀သန်း (US$ ၂.၀၀သန်းအပါအဝင်) |
| | - ငွေသား | ကျပ်၃၆.၀၀သန်း | ကျပ်၂၄.၀၀သန်း |
| | - အဆောက်အဦ | ကျပ်၁၅.၀၀သန်း | ကျပ်၁၀.၀၀သန်း |
| | - မြေ | ကျပ် ၅.၀၀သန်း | ကျပ် ၇.၀၀သန်း |
| | - စက်ပစ္စည်းကိရိယာ | ကျပ် ၆.၀၀သန်း (US$ ၀.၅၀သန်းအပါအဝင်) | ကျပ် ၆.၀၀သန်း (US$ ၁.၀၀သန်း) |
| | - ကုန်ကြမ်းပစ္စည်း | ကျပ်၁၂.၀၀သန်း (US$ ၂.၀၀သန်း) | ကျပ် ၆.၀၀သန်း (US$ ၁.၀၀သန်း) |
| ၆ | မြေအကြောင်းအရာ | | |
| | - မြေအကျယ်အဝန်း | - ၁.၀၂၄ဧက (၄၁၄၄ စတုရန်းမီတာ) | |
| | - မြေပိုင်ဆိုင်မှု | - စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် အမည်ဖြင့်အသုံးပြုခွင့်ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနပိုင်မြေ (မြေကိုမတည်ငွေရင်းအဖြစ်ထည့်ဝင်ထားပါသည်) | |
| | - မြေအမျိုးအစား | - စက်မှုမြေ | |

| | | မူလတင်ပြချက် | | | ပြင်ဆင်တင်ပြချက် | | |
|---|---|---|---|---|---|---|---|
| ၇ | ထုတ်လုပ်မှု | ကီလို (၀၀၀) | | ပေါင် (၀၀၀) | ထုတ်(၀၀၀) | | ပေါင်(၀၀၀) |
| | - Assorted Biscuit | ၄၀၀၀ | | - | ၅၀၀၀ | | - |
| | - Filling & Sweet Buns | - | | ၆၅၀ | - | | ၆၅၀ |
| | - Cakes of Various Sorts | - | | ၆၅၀ | - | | ၆၅၀ |
| | - Loaves | - | | ၄၅၀ | - | | ၄၅၀ |
| | | ( ၁ထုတ်လျှင် ၂၅၀ gram ရှိပါသည် ) | | | | | |
| ၈ | ရောင်းချမည့်နည်းစနစ် | မူလတင်ပြချက် | | | ပြင်ဆင်တင်ပြချက် | | |
| | | ပြည်ပ | | ပြည်တွင်း | ပြည်ပ | | ပြည်တွင်း |
| | - Assorted Biscuit | ၆၀ % | | ၄၀ % | ၇၀ % | | ၃၀ % |
| | - ကျန်မုန့်များ | - | | ၁၀၀ % | - | | ၁၀၀ % |
| ၉ | ရောင်းဈေးနှုန်း (ပုံမှန်နှစ်) | မူလတင်ပြချက် | | | ပြင်ဆင်တင်ပြချက် | | |
| | | ပြည်ပ | ပြည်တွင်း | | ပြည်ပ | ပြည်တွင်း | |
| | | (US$/ကီလို) | (ကျပ်/ကီလို) | (ကျပ်/ပေါင်) | (US$/ထုတ်) | (ကျပ်/ထုတ်) | (ကျပ်/ပေါင်) |
| | - Assorted Biscuit | ၄.၉၉ | ၁၆၃ | - | ၁.၀၆ | ၁၇၃ | - |
| | - Filling & Sweet Buns | - | - | ၃၅၀ | - | - | ၃၅၀ |
| | - Cakes of Various Sorts | - | - | ၃၅၀ | - | - | ၃၅၀ |
| | - Loaves | - | - | ၁၉၉ | - | - | ၁၉၉ |
| ၁၀ | ဝင်ငွေ (ပုံမှန်နှစ်) | မူလတင်ပြချက် | | | ပြင်ဆင်တင်ပြချက် | | |
| | - ကျပ်ငွေဖြင့် | ကျပ် ၈၀၄.၅၀ သန်း | | | ကျပ် ၈၀၄.၅၀ သန်း | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၁၁.၉၇ သန်း | | | US$ ၆.၅၃ သန်း | | |
| ၁၁ | အသားတင်အမြတ် (ပုံမှန်နှစ်) | မူလတင်ပြချက် | | | ပြင်ဆင်တင်ပြချက် | | |
| | - ကျပ်ငွေဖြင့် | ကျပ် ၆.၀၉ သန်း | | | ကျပ် ၆.၀၉ သန်း | | |
| | - နိုင်ငံခြားငွေဖြင့် | US$ ၂.၁၃ သန်း | | | US$ ၂.၁၃ သန်း | | |

| | | |
|---|---|---|
| ၁၂ | နိုင်ငံတော်မှပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | **မူလတင်ပြချက်** / **ပြင်ဆင်တင်ပြချက်** |
| | - ဝင်ငွေခွန် | ကျပ် ၂.၆၀ သန်း / ကျပ် ၂.၆၀ သန်း |
| | | US$ ၀.၃၀ သန်း / US$ ၀.၃၀ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၁၀.၄၅ သန်း / ကျပ် ၁၀.၄၅ သန်း |
| ၁၃ | ဝန်ထမ်းအင်အား | ၂၀၆ ဦး |
| | - ပြည်တွင်း | ၂၀၁ ဦး |
| | - ပြည်ပ | ၅ ဦး |
| ၁၄ | တည်ဆောက်မှုကာလ | (၁၂)လ |
| ၁၅ | အခြား | - စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းများကိုစင်ကာပူနိုင်ငံ Super One International Trading Pte Ltd မှရွှေဆိုင်းငွေပေးချေခြင်းစနစ်အရတစ်နှစ်လျှင် (၆) % အတိုးနှုန်းဖြင့် (၄) နှစ်အတွင်းပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်းစာရင်းကိုပူးတွဲတင်ပြထားပါသည်။<br>- လိုအပ်သောကုန်ကြမ်းပစ္စည်းများကိုပုံမှန်နှစ်တွင်ပြည်ပမှ US$ ၉.၃၂ သန်းမှာယူတင်သွင်းမည်ဟုမူလကဖော်ပြခဲ့ပြီး ပြန်လည်ပြင်ဆင်တင်ပြရာတွင် US$ ၃.၀၇ သန်းဖိုးသာမှာယူတင်သွင်းမည်ဖြစ်ကြောင်းဖော်ပြလိုပါသည်။<br>- အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။<br>- ထုတ်လုပ်မည့်မုန့်များကိုကိုယ်ပိုင်အမှတ်တံဆိပ်ဖြစ်သော စူပါဝမ်း ( Super One ) အမှတ်တံဆိပ်ဖြင့်ထုတ်လုပ်မည်ဖြစ်ပါသည်။ |

- ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့်မီးဘေးအန္တရာယ်များ မဖြစ် ပွားစေရန်ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထား မည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှ ရွှေ့ဆိုင်း ငွေ ပေးချေခြင်းစနစ်ဖြင့်ဝယ်ယူသောစက်ပစ္စည်း နှင့်ကုန်ကြမ်းပစ္စည်းတန်ဖိုးများကိုပြန်လည် ပေးဆပ်ရာတွင်ပြည်ပသို့တင်ပို့ရရှိသောနိုင်ငံ ခြားငွေဖြင့်သာပေးဆပ်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

- ဤလုပ်ငန်းအဆိုပြုချက်ကို (၂၄-၁၂-၉၈) နေ့ တွင်ကျင်းပခဲ့သော (၂၃/၉၈) ကြိမ်မြောက်ကြို တင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာခွင့်မ ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။

- သို့ပါ၍ကုမ္ပဏီမှပြင်ဆင်ချက်များနှင့်အတူအသနား ခံပြန်လည်တင်ပြလာခြင်းဖြစ်ပါသည်။

# SUPER ACE INTERNATIONAL COMPANY LIMITED

## VALUE OF RAW MATERIALS TO BE IMPORTED

Exhibit III(A)

| Sr. No. | Particulars | A/U | QTY | Unit Price in US$ | Value in US$ |
|---|---|---|---|---|---|
| 1 | Soft Wheat Flour | MT | 500 | 350 | 175,000 |
| 2 | Butter Fat | " | 50 | 1950 | 97,500 |
| 3 | Baking Powder | " | 15 | 1000 | 15,000 |
| 4 | Coloring Powder | " | 5 | 2000 | 10,000 |
| 5 | Milk Powder | " | 40 | 2000 | 80,000 |
| 6 | Packaging Foil | Roll | 6250 | 80 | 500,000 |
| 7 | Chocalate Converture | MT | 14 | 8750 | 122,500 |
| | Total | US$ | | | 1,000,000 |

Note ; (1)Total value of raw material mentioned in the above table is for Year 1 only.

(2) 500 MT of purified soft wheat flour will be imported and this is an essential requirement for the production of biscuit to meet the export quality and standard in competitive foreign market.

[illegible]
[illegible]
[illegible]
[illegible]

# SUPER ACE INTERNATIONAL COMPANY LIMITED

**LIST OF MACHINERIES & EQUIPMENT TO BE IMPORTED**

Exhibit No. (III B)

| Sr. No | Particulars | A/U | Qty | Price in US$ | Value in US$ |
|---|---|---|---|---|---|
| 1 | Spiral Mixer Machine (SH 109) | Nos. | 2 | 20,000 | 40,000 |
| 2 | High speed Mixer Machine (SH 106) | " | 2 | 25,000 | 50,000 |
| 3 | Electronic Gas Oven (SH 177) | " | 3 | 50,000 | 150,000 |
| 4 | Bread slicing Machine (SH 121) | " | 2 | 20,000 | 40,000 |
| 5 | Steam Proofing Machine (SH 145) | " | 2 | 30,000 | 60,000 |
| 6 | Revolving Tray (Reel) Diesel Oven (SH 102) | " | 2 | 90,000 | 180,000 |
| 7 | Dough dividing & rounding Machine (SH 120) | " | 3 | 20,000 | 60,000 |
| 8 | automatic Bun slicing,cream Filling Machine (SH 1381) | " | 3 | 20,000 | 60,000 |
| 9 | Long moulder Machine (SH 118) | " | 3 | 25,000 | 75000 |
| 10 | Semi automatic Roller Machine (SH 139) | " | 2 | 16800 | 33600 |
| 11 | Packing Machine | " | 4 | 7,000 | 28000 |
| 12 | 75 KVA Generator | " | 1 | 14,000 | 14,000 |
| 13 | 150 KVA Generator | " | 1 | 28,000 | 28,000 |
| 14 | Hitachi Compressor | " | 2 | 4,000 | 8000 |
| 15 | Transformer | " | 2 | 20000 | 40000 |
| 16 | Saloon Car | " | 2 | 10000 | 20000 |
| 17 | Pick-up Car | " | 2 | 9000 | 18000 |
| 18 | Truck (2 ton up ) | " | 2 | 9000 | 18000 |
| 19 | Central Air Condition ing System | " | 3 | 25000 | 75,000 |
| 20 | Air Conditioner (Split Type) | Set | 4 | 600 | 2400 |
| | **Sub Total of Machineries** | | | US$ | **1000000** |
| | **Sub Total of Raw Materials** | | | US$ | **1000000** |
| | **Total** | | | US$ | **2000000** |

4483(c)
21/12/98

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် ( ၁ ) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၀/၁၈(၁)(၆၆၃၉)/၉၈( ၇၁၄၉ )

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၈ ခု၊ ဒီဇင်ဘာ လ ၁၅ ရက်။

အကြောင်းအရာ။ **သဘောထား မှတ်ချက်တောင်းခံခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၈ ခုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၃၂၃/၉၈(၆၀၂၅)

Super Ace International co., Ltd. မှ ရန်ကုန်တိုင်း၊ လှိုင်သာယာစက်မှုဇုန်(၂)တွင် စက်ရုံတည်ဆောက်၍ မုန့်မျိုးစုံထုတ်လုပ်သည့်လုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့်ပတ်သက်၍ ဝန်ကြီးဌာနအနေဖြင့် အောက်ဖော်ပြပါအချက်များနှင့်ပြည့်စုံပါကကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်-

(က) စံချိန်စံညွှန်းများ မည်သို့သတ်မှတ်ထားရှိမည်ကို ဖော်ပြသင့်ပါသည်။

(ခ) ပြည်ပသို့တင်ပို့ရောင်းချမှုအတွက်အရည်အသွေးအာမခံချက်ရရှိစေရန်စီစဉ်ထားရှိမှုအသေးစိတ်အထောက်အထားများကို တောင်းခံသင့်ပါသည်။

၁၅/၁၂/၉၈

ဝန်ကြီး ( ကိုယ်စား )
( မြင့်ဆွေ၊ ဦးစီးအရာရှိ (?) )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို - ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စားသောက်ကုန်လုပ်ငန်း

ခိုင်/*၁၅၁၂၉၈

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

Fax: 095-01-282101

တယ်လီဖုန်း - ၂၇၂၉၁၂၊ ၂၇၂၁၅၉၊ ၂၇၂၃၉၁။

စာအမှတ်၊ ရက-၁/မ-၃၂၃/၉၈ ( ၆၆၃၉ )

ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်

အကြောင်းအရာ။ ။ စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ ရန်ကုန်မြို့၊ လှိုင်သာယာမြို့နယ်တွင် မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်၏ (၂၅-၁၁-၉၈) နေ့စွဲပါစာ။

၁။ စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်မှ ရန်ကုန်မြို့၊ လှိုင်သာယာစက်မှုဇုန်အမှတ်(၂)၊ မြေကွက်အမှတ်(၂၁၅) ရှိ မြေတွင် မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြခြင်းကိစ္စကို (၂၄-၁၂-၉၈) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃/၉၈)ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ မုန့်မျိုးစုံထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်မပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပါဆုံးဖြတ်ချက်ကို သိရှိနိုင်ပါရန်အကြောင်းကြားအပ်ပါသည်။

( မောင်မောင်ဦး )

တွဲဖက်အတွင်းရေးမှူး ။

အုပ်ချုပ်မှုဒါရိုက်တာ

စူပါအေ့(စ်)အင်တာနေရှင်နယ်ကုမ္ပဏီလီမိတက်။

* အေး * ၂၆-၁၂-၉၈

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

# SUPER ACE

## INTERNATIONAL COMPANY LIMITED

1 KANTHARYAR STREET, WARD NO.3, MAYANGONE TOWNSHIP, YANGON, 11061 TEL: 92251, TLX: 21207 ANSCOM BM FAX. 095 - 1 - 90597

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ ။ ။၁၇.၅.၉၉

အကြောင်းအရာ။ ။ <u>ကိုယ်စားလှယ်လွှဲအပ်ခြင်း ။</u>

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ကျွန်မတို့၏ SUPER ACE INTERNATIONAL COMPANY LIMITED. INT'L CO.,LTD အနေဖြင့်ပြည်တွင်းတွင် အသင့်စားသုံးနိုင်သောဘီစကစ် ထုတ်လုပ်သည့်စက်ရုံတည် ဆောက်ပြီးလုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက်မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားခဲ့ပါသည်။ ယခုအခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် (MIC) ခွင့်ပြုမိန့် PERMIT ထုတ်ယူရန်အတွက် ဤကုမ္ပဏီ၏ ဝန်ထမ်းဖြစ်သူ ဦးတင်အောင်လင်း (အမျိုးသားမှတ်ပုံတင်အမှတ် - MYA 012738 )အား ကိုယ်စားလှယ်လွှဲအပ်ထားပါသည်။

ကိုယ်စားလှယ်၏ထိုးမြဲလက်မှတ်-

၁။---------------------

၂။---------------------

၃။---------------------

လေးစားစွာဖြင့်

Daw San San Yi
MANAGING DIRECTOR
SUPER ACE INTERNATIONAL CO., LTD.

# SUPER ACE

INTERNATIONAL COMPANY LIMITED

1 KANTHARYAR STREET, WARD NO.3, MAYANGONE TOWNSHIP, YANGON, 11061 TEL: 92251, TLX: 21207 ANSCOM BM FAX. 095 - 1 - 90597


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ၁၉၉၉ခုနှစ်၊ ဧပြီလ ( ၁၆ )ရက်။

အကြောင်းအရာ ။ ။<u>ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့သို့ဆက်လက်တင်ပြနိုင်ရန်အဆိုပြုလွှာများပေးပို့ခြင်း။</u>

အထက်အကြောင်းအရာပါကိစ္စနှင့်ပါတ်သက်၍ ကျွန်မတို့၏ Super Ace International Co.Ltd. အနေဖြင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ မုန့်မျိုးစုံ ထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ပြည်ထောင်စုမြန်မာနိုင်ငံအစိုးရအဖွဲ့သို့ ဆက်လက်တင်ပြ၍ ခွင့်ပြုမိန့် ရယူနိုင်ရန်အတွက် Super Ace International Co.Ltd. ၏အဆိုပြုလွှာ(၂၂)စုံကို ပေးပို့အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

စန်းစန်းရီ

(အုပ်ချုပ်မှုဒါရိုက်တာ)

Super Ace International Co.Ltd.

# SUPER ACE

INTERNATIONAL COMPANY LIMITED

1 KANTHARYAR STREET, WARD NO 3, MAYANGONE TOWNSHIP, YANGON, 11061 TEL: 92251, TLX: 21207 ANSCOM BM FAX. 095 - 1 - 90597

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ၁၉၉၉ခုနှစ်၊ မတ်လ (၂၃)ရက်။

အကြောင်းအရာ ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများပေးပို့ခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်မတို့၏ Super Ace International Co., Ltd အနေဖြင့်ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီ မုန့်မျိုးစုံထုတ်လုပ်သည့် စက်ရုံတည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ကျွန်မတို့ကုမ္ပဏီ၏ အဆိုပြုလွှာ(၂၅)စောင်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြနိုင်ရန် ပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

စန်းစန်းရီ

(အုပ်ချုပ်မှုဒါရိုက်တာ)

